(၆) မွေးမြူရေးနှင့် ရေလုပ်ငန်းများအတွက် အသုံးပြုရန် လျှောက်ထားလာပါက အောက်ပါအချက်များ ပါရှိရမည်-

(ကက)တိရစ္ဆာန်မွေးမြူရေးလုပ်ငန်းအတွက်ဖြစ်ပါက မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန၊ တိုင်းဒေသကြီး/ပြည်နယ်အဆင့် သဘောထားမှတ်ချက်၊

(ခခ)ငါး/ပုဇွန်မွေးမြူရေးလုပ်ငန်းအတွက်ဖြစ်ပါက ငါးလုပ်ငန်းဦးစီးဌာန၊ တိုင်းဒေသကြီး/ပြည်နယ်အဆင့် သဘောထားမှတ်ချက်၊

(၇) စက်ရုံ၊ အလုပ်ရုံများနှင့် အခြားတည်ဆောက်ရေးလုပ်ငန်းများနှင့် စပ်လျဉ်း၍ သက်ဆိုင်သည့် ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များ ပါရှိရမည်။

(၈) နိုင်ငံတော်က သတ်မှတ်ထားသော ရှေးဟောင်းယဉ်ကျေးမှုအမွေအနှစ်ဒေသများ အတွင်းတည်ရှိသော လယ်ယာမြေများဖြစ်ပါက ယဉ်ကျေးမှုဝန်ကြီးဌာန၏ ခွင့်ပြုချက်ပါရှိရမည်။

(ဆ) ရပ်ကွက် သို့မဟုတ် ကျေးရွာအုပ်စု လယ်ယာမြေစီမံခန့်ခွဲရေးအဖွဲ့၏ စိစစ် ထောက်ခံ ချက် ပါ /မပါ - ပါရှိပါသည်။

(ဇ) တပ်မတော်၊ ဦးစီးဌာနများ၊ လုပ်ငန်းများမှ လယ်ယာမြေကို အခြားနည်းဖြင့် အသုံး ပြုရန်လျှောက်ထားသည့် ကိစ္စအတွက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ် ချက် ပါ /မပါ ................................ အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ လုပ်ငန်းဆိုင်ရာခွင့်ပြုချက် ပူးတွဲတင်ပြထားခြင်း ရှိ/မရှိ ................................

(ဈ) လျှောက်ထားသည့်မြေနှင့် ပတ်ဝန်းကျင်များဖော်ပြသည့်မြေပုံပူးတွဲ၍ ဘေးပတ်ဝန်းကျင် မြေများပေါ်တွင် အသုံးပြုမှုအခြေအနေ တင်ပြထားခြင်း ရှိ/မရှိ- ပူးတွဲတင်ပြထားသည်။

(ည) လျှောက်ထားမြေသည် ပုဂ္ဂလိကအတွက်ဖြစ်ပါက လျှောက်ထားသူသည် ပြည်ထောင်စု မြန်မာနိုင်ငံသား ဟုတ်/မဟုတ် စစ်ဆေးရန် မှတ်ပုံတင်မိတ္တူတင်ပြထားခြင်း ရှိ/မရှိ - မှတ်ပုံတင်မိတ္တူပူးတွဲတင်ပြထားပါသည်။

(ဋ) လျှောက်ထားသည့်ကိစ္စနှင့် ပတ်သက်၍ ကန့်ကွက်သူ ရှိ/မရှိ - မရှိပါ။

(ဌ) အနီးပတ်ဝန်းကျင်နေထိုင်လုပ်ကိုင်သူများ၏ သဘောတူညီကြောင်း ထွက်ဆိုချက်များ ပူးတွဲတင်ပြထားခြင်း ရှိ/မရှိ - ပူးတွဲတင်ပြထားပါသည်။

(ဍ) လျှောက်ထားသည့်မြေကို ဖော်ပြသည့် သက်သေခံမြေပုံတွင် အခွန်တံဆိပ်ခေါင်း ဦးပိုင် တစ်ခုချင်းအလိုက် တန်ဖိုးသင့် ကပ်ထားခြင်း ရှိ/မရှိ - ရှိပါသည်။

၁၀။ **လျှောက်ထားမှုအပေါ် နေပြည်တော်ကောင်စီ၊ တိုင်းဒေသကြီး/ပြည်နယ် လယ်ယာမြေ စီမံ ခန့်ခွဲမှုအဖွဲ့၏ သဘောထားမှတ်ချက်**

(က) လျှောက်ထားသည့်မြေကို သက်ဆိုင်ရာ၏ ခွင့်ပြုချက်မရရှိဘဲ တဆင့်လွှဲပြောင်းခြင်း၊ မြေပေါ်အဆောက်အအုံများ ကြိုတင်ကျူးကျော်၍ ဆောက်လုပ်ခြင်း စသည့် မြေယာဥပဒေအရ စည်းကမ်းပျက်ခြင်းစသည်တို့ကို ဖော်ပြထားခြင်း ရှိ/မရှိ ....................

....................................................................................................

(ခ) လျှောက်ထားမှုအပေါ် လယ်ယာမြေဥပဒေပုဒ်မ ၂၉၊ ၃၀(က)၊ ၃၀(ခ)အရ လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်းအသုံးပြုရန်အတွက် ဆင့်ဆိုရန် ထောက်ခံချက်ကို သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးဆုံးဖြတ်ချက်၊ သဘောထားမှတ်ချက်များနှင့်တကွ တင်ပြထားခြင်း ရှိ/မရှိ ..............................

....................................................................................................

၁၁။ **ပထမ စိစစ်သူ၏ သဘောထားမှတ်ချက်**

(က) အမှုတွဲတွင် လိုအပ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

....................................................................................................

....................................................................................................

....................................................................................................

(ခ) အထက်ဖော်ပြပါ လိုအပ်ချက်များအား ထပ်မံဖြည့်ဆည်းရန် အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြု တင်ပြအပ်ပါသည်။

....................................................................................................

....................................................................................................

....................................................................................................

လယ်ယာမြေဥပဒေပုဒ်မ ၂၉၊ ၃၀(က)၊ ၃၀(ခ)အရ လယ်ယာမြေကို သတ်မှတ်သည့် နည်းလမ်းအတိုင်း အသုံးပြုရန်အတွက် ဆင်ဆိုရန် လျှောက်ထားသည့်

အမှုတွဲများနှင့် ပတ်သက်၍ စိစစ်ချက်ဇယား

| စဉ် | လျှောက်ထားသူ | | | လျှောက်ထားသည့်မြေ | | | | | | | အသုံးပြုရန် လျှောက်ထားသည့် နည်းလမ်း | စိစစ်တွေ့ရှိချက် | |
|---|---|---|---|---|---|---|---|---|---|---|---|---|---|
| | အမည် | အလုပ်အကိုင် | နေရပ်လိပ်စာ | တိုင်းဒေသကြီး/ပြည်နယ် | မြို့နယ် | ရပ်ကွက်/ကျေးရွာအုပ်စု | ကွင်းအမှတ် | ဦးပိုင်အမှတ် | မြေမျိုး | ဧရိယာ(ဧက) | | ပြည့်စုံ | လိုအပ်ချက်ရှိ |
| ၁. | ဦးလှမြင့်မြတ်ဆောင် | အကျောင်းဆယ် | ၃၇.မြောက်သာယာရပ်ကွက်, သီရိမင်္ဂလာဈေး, ကျိုက်မြို့နယ် | ဧရာဝတီ | ရှောင်တုပ် | ကတွဲ | ၃၄၈ | ၈၈/၂ | ဥယျာဉ် | ၁.၂၄ | သစ်တော်ကျွန်းစိုက်ခင်းဆောက်လုပ်ရန်လယာသုံးလျှောက်ထားခြင်း | | |

[illegible]

**၂၀၁၆ ခုနှစ် မတ်လ(၁၈)ရက်၊ သောကြာနေ့ ၊ နေ့လည်(၁၄:၀၀)နာရီအချိန်တွင် ညောင်တုန်းမြို့နယ် မြေအသုံးချမှု စီမံခန့်ခွဲရေးကော်မတီရုံးအစည်းအဝေးခန်းမ၌ကျင်းပပြုလုပ်သည့် မြို့နယ်လယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့နှင့် မြို့နယ်မြေအသုံးချမှု စီမံခန့်ခွဲရေးကော်မတီ လုပ်ငန်းညှိနှိုင်းအစည်းအဝေး မှတ်တမ်း**

**အမှတ်စဉ်(၇ /၂၀၁၆)**

**ဖိတ်ကြား၍ အစည်းအဝေးတက်ရောက်ကြသူများ**

၁။ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | |
|---|---|---|
| (က) | ဦးသန့်ဇော်ဦး | မြို့နယ်အုပ်ချုပ်ရေးမှူး၊မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန |
| (ခ) | ဦးကိုကိုမောင် | ဦးစီးအရာရှိ၊ (စီမံကိန်း) |
| (ဂ) | ဦးဇော်မြင့်နိုင် | ဦးစီးအရာရှိ၊ (ငါးလုပ်ငန်း) |
| (ဃ) | ဦးကျော်လွင် | ဦးစီးအရာရှိ၊ (လယ်ယာမြေ/စာရင်းအင်း) |
| (င) | ဦးကျော်ဇေယျာတင့် | ဦးစီးအရာရှိ ၊(ဆည်မြောင်း) |
| (စ) | ဦးခင်အောင်စိုး | ဒု-ဦးစီးမှူး(လယ်ယာမြေ/စာရင်းအင်း) |
| (ဆ) | ဦးဘိုဘိုဦး | ဒု-ဦးစီးမှူး(မွေး/ကု) |
| (ဇ) | ဦး | ဒု - ဦးစီးမှူး ၊(သစ်တော) |
| (ဈ) | ဒေါ်ကြည်ကြည်သန်း | ဒု-ဦးစီးမှူး(ထွေ/အုပ်) |

**ရည်ရွယ်ချက်**

၂။ မြို့နယ်အတွင်းမှ လယ်ယာမြေနှင့်ပတ်သက်သော တိုင်ကြားစာများနှင့် မြေယာအယူခံဝင်ရောက်သော အမှုများအား စစ်ဆေးဆုံးဖြတ်ရန်ဖြစ်ပါသည်။

**ဆွေးနွေးချက်များ**

၃။

xxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxxx

**ဆုံးဖြတ်ချက်များ**

၄။ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ကြပါသည်။

| စဉ် | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| ၁ | ညောင်တုန်းမြို့နယ် အစွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၄၉)၊ အမြောင်းကွင်း ၊ဦးပိုင်အမှတ် (၈၃/၃၊၈၄/၄၊၈၅/၁)၊ ဧရိယာ (၁.၉၇)ဧကရှိ လယ်မြေမျိုးပေါ်တွင် ဦးလူမော်မြင့်မောင်မှ (၂၀၁၂)ခုနှစ် လယ်ယာမြေ ဥပဒေပုဒ်မ(၃၀) အရ လယ်ယာမြေကို စိုက်ပျိုးမှုအမှအပ အခြားနည်း (ဆန်စက်နှင့်ဂိုဒေါင်) ဆောက်လုပ်အသုံးပြုခွင့်ပြုပါရန် လျှောက်ထားတင်ပြလာခြင်း ကိစ္စအပေါ် ကန့်ကွက်ရန်မရှိသဖြင့် ခရိုင်လယ်/စီသို့ ဆက်လက်တင်ပြရန် | မြို့နယ်လယ်/စီ |

| စဉ် | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| ၂ | ညောင်တုန်းမြို့နယ် အရွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၄၉)၊ အမြောင်းကွင်း ဦးပိုင်အမှတ် ( ၈၆ )၊ ဧရိယာ ( ၁.၂၆ )ဧကရှိ ဥယျာဉ်မြေမျိုး ပေါ်တွင် ဦးလှမော်မြင့်မောင်မှ (၂၀၁၂)ခုနှစ် လယ်ယာမြေ ဥပဒေပုဒ်မ(၃၀) အရ လယ်ယာမြေကို စိုက်ပျိုးမှုအမှအပ အခြားနည်း (ဆန်စက်နှင့်ဂိုဒေါင်) ဆောက်လုပ်အသုံးပြုခွင့်ပြုပါရန် လျှောက်ထားတင်ပြလာခြင်း ကိစ္စအပေါ် ကန့်ကွက်ရန်မရှိသဖြင့် ခရိုင်လယ်/စီသို့ ဆက်လက်တင်ပြရန် | မြို့နယ်လယ်/စီ |
| ၃ | ညောင်တုန်းမြို့နယ် အရွဲကျေးရွာအုပ်စု၊ ကွင်းအမှတ်(၃၄၉)၊ အမြောင်း ကွင်း ဦးပိုင်အမှတ် ( ၈၉/၂ )၊ ဧရိယာ (၁.၄၆)ဧကအနက် ( ၁.၂၄ )ဧကရှိ ဥယျာဉ်မြေမျိုး ပေါ်တွင် ဦးလှမော်မြင့်မောင်မှ (၂၀၁၂)ခုနှစ် လယ်ယာမြေ ဥပဒေပုဒ်မ ( ၃၀) အရ လယ်ယာမြေကို စိုက်ပျိုးမှုအမှအပ အခြားနည်း (ဆန်စက်နှင့် ဂိုဒေါင်) ဆောက်လုပ်အသုံးပြုခွင့်ပြုပါရန် လျှောက်ထားတင်ပြလာခြင်းကိစ္စ အပေါ် ကန့်ကွက်ရန်မရှိသဖြင့် ခရိုင်လယ်/စီသို့ ဆက်လက်တင်ပြရန် | မြို့နယ်လယ်/စီ |

**အစည်းအဝေးရုပ်သိမ်းခြင်း**

၅။ အစည်းအဝေးအား ညနေ(၁၆:၃၀)နာရီအချိန်တွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ
(ကျော်လွင် ၊ အတွင်းရေးမှူး)

စာအမှတ် ၊ ၅ / ၈ - ၄ / ဦး ၆

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ မတ်လ( ၁၈ ) ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူ(အားလုံး)

မိတ္တူကို -

- ဥက္ကဋ္ဌ ၊ ခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ ၊ မအူပင်ခရိုင်၊ မအူပင်မြို့။
- လက်ခံစာတွဲ
- မျှော

FORM VI 017113



# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 20th of December 20 2016

on the of 20 of the * SHWE WAH NADI AGRICULTURE PRODUCTION CO., LTD.

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................. 500 Shares

" " " " ..................

Nominal amount of the shares so allotted .................. Ks. 5,000,000/-

" " " " ..................

Amount paid or due and payable on cash such share .................. Ks. 10,000/-

" " " " .................. (Fully Paid Up)

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted .................. NIL

Amount to be treated as paid on each such share .................. NIL

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.
2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

SHWE WAH NADI AGRICULTURE PRODUCTION CO. NO. .............. DATE..........

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THE

**( Myanmar Companies Act, See Section 87 )**

Name of Company : **SHWE WAH NADI AGRICULTURE PRODUCTION CO., LTD.**

Presented by : **U Lu Maw** (Director)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | |
|---|---|---|---|---|
| 1- U Lu Maw Myint Maung | Myanmar 12/Ma Ga Ta (Naing) 000651 | No.Nya/73, Yuzana Street, Bayint Naung (1st) Quarter, Mayangone Township, Yangon Region. | Merchant | Appointed w.e.f 20 - 1 |
| 2- Daw Maw Maw Tint | Myanmar 12/La Ma Na (Naing) 002411 | No.Nya/73, Yuzana Street, Bayint Naung (1st) Quarter, Mayangone Township, Yangon Region. | Merchant | Appointed a 20 - 12 - 2 |
| 3- U Thaung Tike Soe | Myanmar 12/Ma Ya Ka (Naing) 111143 | No.Hsa/45, Padauk Street, Ward No.(1), Mayangone Township, Yangon Region. | Merchant | Appointed a 20 - 12 - 2 |

NOTE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.
(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry

Signature ......................

Dated this 20- 12 - 2016 ........................................

Designation ...............U LU M MANA
SHWE WAH NADI AG

Form (26)

4798

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ...၄၂၉၃...... / ၂၀၁၆ - ၂၀၁၇ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...ရွှေဝါနဒီ စိုက်ပျိုးရေး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်............................... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၆ နှစ်၊ ဒီဇင်ဘာ လ၊ ...၁၉ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(နီလာမူ ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF PLANNING AND FINANCE

# CERTIFICATE OF INCORPORATION

NO. ......4293............... of 2016 2017 (YGN)

I hereby certify that ......SHWE WAH NADI AGRICULTURE PRODUCTION COMPANY LIMITED...............................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ........NINETEENTH..................day of ........DECEMBER , TWO THOUSAND AND SIXTEEN ..........

For Director General

(Nilar Mu , Director)

Directorate of Investment and Company Administration

22447

# The Government of the Republic of the Union of Myanmar
## Ministry of Commerce
## Department of Trade
## CERTIFICATE OF EXPORTER/IMPORTER REGISTRATION

1. Enterprise Name (မြန်မာ/အင်္ဂလိပ်): SHWE WAH NADI AGRICULTURE PRODUCTION COMPANY LIMITED.

2. Registration No: 42925(30-12-16)

3. Registration Term: FIVE YEAR

4. Start Date : 30-12-2016

5. End Date : 18-12-2021

6. Address : (မြန်မာ/အင်္ဂလိပ်) No.(Nya/73), Yuzana Street, Bayint Naung (1) Ward, Mayangone Township, Yangon Region,Myanmar

7. Business Registration No : 4293/2016-2017(YGN)(19-12-2016)

8. Type of Business : (မြန်မာ/အင်္ဂလိပ်)
- ☐ Sole Proprietorship(တစ်ဦးတည်းပိုင်)
- ☐ Partnership(အစုစပ်)
- ☑ Limited Company(လီမိတက်ကုမ္ပဏီ)(Myanmar/Foreign)
- ☐ Co-operative Society(သမဝါယမအသင်း)
- ☐ Others(Please specify)အခြား(ဖော်ပြရန်) သင်း၍မှတ်တမ်းပါလုပ်ငန်း( )မျိုး ဆောင်ရွက်ခွင့်ရှိသည်။

9. Type of Service : ◉ New ○ Extension

10. Contact No :

| Telephone No. | Fax No. | e-mail |
|---|---|---|
| 01-686158 01-680803 01-686251 | 01-685251 | lumawmm@swygroup.com |

11. Remarks :

12. Terms and Conditions : စည်းကမ်းချက်များ
I hereby register the above mentioned enterprise as Exporter/Importer subject to the following terms and conditions: (အောက်ဖော်ပြပါစည်းကမ်းချက်များဖြင့် ပို့ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်တမ်းတင်ခွင့်ပြုသည်)
(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် - တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ကုန်ပစ္စည်းများအားလုံး
(b) The enterprise must abide by the Export/Import rules and Regulations prescribed for the registered Exporters/Importers.(လုပ်ငန်းရှင်သည် မှတ်ပုံတင် ပို့ကုန်သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့်စည်းကမ်းချက်များကို လိုက်နာရမည်)

Stamp

For Director General
(ဝန်းဝန်းအေး၊ လက်ထောက်ညွှန်ကြားရေးမှူး)

EIREG1216340EIREGEX12130012

30/12

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေဝါနဒီ စိုက်ပျိုးရေး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်★

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# SHWE WAH NADI AGRICULTURE PRODUCTION COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေဝါနဒီ စိုက်ပျိုးရေး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **ရွှေဝါနဒီ စိုက်ပျိုးရေး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀၀၀၀၀၀၀ /-( ကျပ် သန်းငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀ /-( ကျပ် တစ်သောင်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၇။ ကုမ္ပဏီကိုတည်ထောင်ရသော ရည်ရွယ်ချက်များမှာ-

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၂) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြှင့် သစ်အခြေခံကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၃) တိရစ္ဆာန်ထွက်ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ ရောင်းဝယ်ခြင်း၊
(၄) ရေထွက်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၅) ဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများ ရောင်းဝယ်ခြင်း၊
(၆) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ ရောင်းဝယ်ခြင်း၊
(၇) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၈) အိမ်သုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၉) လူသုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၀) ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများနှင့် သုတ်ဆေးများ ရောင်းဝယ်ခြင်း၊
(၁၁) လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၂) ယာဉ်နှင့် စက်ကိရိယာနှင့် အပိုပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၃) ကိရိယာတန်ဆာပလာအမျိုးမျိုး ရောင်းဝယ်ခြင်း၊
(၁၄) ဆေးနှင့် ဆေးပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၅) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၆) အထည်အလိပ်နှင့် အဝတ်အထည်များ ရောင်းဝယ်ခြင်း၊
(၁၇) စက္ကူ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၈) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူပြုပစ္စည်းများ ရောင်းဝယ်ခြင်း၊
(၁၉) အကျိုးဆောင်လုပ်ငန်းအမျိုးမျိုး၊ ကွန်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့်အကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊
(၂၀) ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊
(၂၁) ဈေးချေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့် လုပ်ငန်းများ၊
(၂၂) ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊
(၂၃) သယ်ယူပို့ဆောင်ရေးလုပ်ငန်း၊
(၂၄) ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း၊
(၂၅) တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း၊
(၂၆) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိ-မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်း လုပ်ငန်းများ၊
(၂၇) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊
(၂၈) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ပြုပြင်ထိန်းသိမ်းလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်း လုပ်ငန်းများ၊
(၂၉) လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက်ခြင်း လုပ်ငန်းများ၊
(၃၀) လယ်ယာကိုင်းကျွန်းနှင့်ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
(၃၁) သစ်နှင့်သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
(၃၂) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
(၃၃) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
(၃၄) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊
(၃၅) လူသုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊
(၃၆) အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊
(၃၇) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၈) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပန်းဘောဝများ ထုတ်လုပ်ခြင်း၊
(၃၉) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
(၄၀) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄၁) လျှပ်စစ်နှင့်အီလက်ထရောနစ်ကုန်ပစ္စည်းများထုတ်လုပ်ခြင်း၊
(၄၂) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
(၄၃) အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသော ကုန်ပစ္စည်းများကို ရောင်းချခြင်း လုပ်ကိုင်ရန်၊
(၄၄) ဆောက်လုပ်ရေးလုပ်ငန်း၊
(၄၅) ကျောက်မျက်လုပ်ငန်း၊
(၄၆) အသေးစားငွေရေးကြေးရေးလုပ်ငန်း၊
(၄၇) ခရီးသွားလုပ်ငန်း၊
(၄၈) ဟိုတယ်လုပ်ငန်း၊

၈။ ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင်အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက် ။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့်တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့်လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်း ရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး လှမော်မြင့်မောင်<br>ကုန်သည်<br>အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁) ရပ်ကွက်၊မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/မဂတ(နိုင်)၀၀၀၆၅၁ | ၂၅၀ | |
| ၂ | ဒေါ် မော်မော်တင့်<br>ကုန်သည်<br>အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁) ရပ်ကွက်၊မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/လမန(နိုင်)၀၀၂၄၁၁ | ၂၅၀ | |
| ၃ | ဦး သောင်းတိုက်စိုး<br>ကုန်သည်<br>အမှတ်(ဆ/၄၅)၊ ပိတောက်လမ်း၊ (၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၁၂/မရက(နိုင်)၁၁၁၁၄၃ | | |

နေ့စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ၊ ၁၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

နိုင်(ဥပဒေဘွဲ့)
တရားလွှတ်တော်ရှေ့နေ
(ပထမထပ်)၊ ဗိုလ်တထောင်ဘုရားလမ်း၊ မိဘာ?ရိပ်မွန်
ရန်ကုန်။ ဖုန်း-(၀၁) ၂၉၆၁၃ ၁/၃၈၀ ၂၃၄/၃၈၀

အမှတ်ပုံတင်စဉ်က

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေဝါနဒီ စိုက်ပျိုးရေး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀၀၀၀၀၀၀ /-(ကျပ်
သန်းငါးရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀.၀၀ /-(ကျပ်
တစ်သောင်း တိတိ)တန်အစုရှယ်ယာပေါင်း ၅၀၀၀၀ ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

( ၁ ) ဦး လှမော်မြင့်မောင် ( ၂ ) ဒေါ် မော်မော်တင့်

( ၃ ) ဦး သောင်းတိုက်စိုး

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်များဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေ များ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ၊ အခွင့်အလမ်းများ မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်း များကိုမဆို သင့်တော်သော စည်းကမ်းချက်များသတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိ ရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့ပ်များ ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာ များ၊ ငွေချေးစာချုပ်များ ၊ သို့မဟုတ် ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များကိုထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်း များ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများ အပါအဝင်ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံးသို့မဟုတ်တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော် လည်းကောင်း၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများ အတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော် သည့် အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်း များကို အမြဲ တမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင် ရွက်ရန် ၊ ထို့အပြင် အဆိုပါကိစ္စများ အတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကို ဖြစ်စေ ၊ တစ်စိတ်တစ်ဒေကို ဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤ ကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၎င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြား အကြောင်းများ ကြောင့် ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ် စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန် ရှိသောငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက် အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန် ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသော နည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ဤကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုး ခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံမှုထားရန်နှင့် စီမံခန့်ခွဲထား ရန်၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည် ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းများကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချ နိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်း ချက်များ ပါပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သောလုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်းသို့မဟုတ်ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန် နှင့် အဆိုပါကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျ စရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤ ကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါ အားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၄င်းတို့နှင့် စပ်လျဉ်း သော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေး သည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံး တစ်ကြိမ် (နောက်ဆုံး ကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံး ဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့သို့သော ဘဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြု ရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံး အတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကိုအောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်သွားရမည် ။

(၁) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်း ထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်း များနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာ ထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ် ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့သည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေ များ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဦး လှမော်မြင့်မောင်<br>ကုန်သည်<br>အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁) ရပ်ကွက်၊မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/မဂတ(နိုင်)၀၀၀၆၅၁ | ၂၅၀ | (signature) |
| ၂ | ဒေါ် မော်မော်တင့်<br>ကုန်သည်<br>အမှတ်-ည/၇၃၊ ယုဇနလမ်း၊ ဘုရင့်နောင်(၁) ရပ်ကွက်၊မရမ်းကုန်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၁၂/လမန(နိုင်)၀၀၂၄၁၁ | ၂၅၀ | (signature) |
| ၃ | ဦး သောင်းတိုက်စိုး<br>ကုန်သည်<br>အမှတ်(ဆ/၄၅)၊ ဝိတောက်လမ်း၊ (၁)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | ၁၂/မရက(နိုင်)၁၁၁၁၄၃ | | (signature) |

နေ့စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ၊ ၁၄ [illegible](ဥပဒေတွဲ)

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။ တရားလွှတ်တော်ရှေ့နေ

၁၅၆(ပထမထပ်)၊ ဗိုလ်တထောင်ဘုရားလမ်း၊ မိဘာရိပ်မွန်

ကုမ္ပဏီ မှတ်ပုံတင်စဉ်က ရန်ကုန်။ ဖုန်း-(၀၁) ၂၉၆၁၁ [illegible]